ကုမ္ပဏီအမည် - ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်

လုပ်ငန်း - သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃၀-၉-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | | ၁၈-၁၂-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၃-၁၀-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၂၉-၁၀-၂၀၁၅ | | |
| | (တတိယအကြိမ်) | ၂၀-၁၁-၂၀၁၅ | | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၃-၁၀-၂၀၁၅ | ၂၆-၁၀-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၃-၁၀-၂၀၁၅ | ၂၂-၁၀-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း | ၅-၁၀-၂၀၁၅<br>၃၆/၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၅-၁၀-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၁၁-၅-၂၀၁၅ | | |
| ၆ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးသို့ တင်ပြရန်ပြုစုခြင်း | ၂၂-၁၂-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | (၈၄) ရက် | | |

ကုမ္ပဏီအမည် - ဝင်းနှင့် ဝင်း ကုမ္ပဏီလီမိတက်

အဖွဲ့အစည်းပုံသဏ္ဌာန် - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - သစ်ပါးလွှာနှင့်အထပ်သားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

တည်နေရာ - အထူးစက်မှုဇုန် မြေကွက်အမှတ် (၉+၁၀+၁၁)၊ ညောင်းအင်း ကျေးရွာ၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်း ဒေသကြီးရှိ မြေ ၁၅ ဧက (၆၀၇၀၂.၉၀ စတုရန်းမီတာ)

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု- ကျပ် ၂၀၂၈.၁၆ သန်း

လုပ်ငန်းသက်တမ်း - ကနဦး ၃၀နှစ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၀၀၄ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၄.၇၀ | |
| ၄ | ဝင်ငွေခွန် | ၄၀၄.၄၆ | ၁၀၄၆.၄၃ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ၄၈.၅၅ | ၁၁၄.၃၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၃၅၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း (၆)ဦး |
| ၈ | CSR (၂%) | | ၃၉.၂၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၆၉ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၄၉၉.၇၀၄ | ၁၅၅၁.၁၁၅ |
| ၁၀ | Cost : Benefit | ၁ : ၃ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက်မှ သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဝင်းနှင့် ဝင်း ကုမ္ပဏီလီမိတက် |
| | ကမကထပြုသူ | - ဦးဝင်းဆွေ(အဘ-ဦးကြင်ဝမ်) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - သစ်ပါးလွှာနှင့်အထပ်သားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - အထူးစက်မှုဇုန် မြေကွက်အမှတ် (၉+၁၀+၁၁)၊ ညောင်းအင်း ကျေးရွာ၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်း ဒေသကြီး။ |
| | မြေပိုင်ရှင် | - ဦးဝင်းဆွေ<br>(ပဲခူးတိုင်းဒေသကြီး၊ စက်ရုံ/အလုပ်ရုံ တည်ထောင်ရေး လုပ်ငန်းကြီးကြပ်မှု ကော်မတီမှ ဦးဝင်းဆွေအမည်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ချထားပေးသည့် မြေအထောက်အထားတင်ပြထားပါသည်။) |
| | မြေအကျယ်အဝန်း | - ၁၅ ဧက(၆၀၇၀၂.၉ စတုရန်းမီတာ) |
| ၅။ | မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၁၃.၃၃ သန်း |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် |
| | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| ၆။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၂၀၂၈.၁၆ သန်း** |

| | ကျပ် (သန်း) | |
|---|---|---|
| (က) ငွေသား | ၁၀၀.၀၀ | |
| (ခ) မြေ | ၆၀၀.၀၀ | |
| (ဂ) အဆောက်အဦး | ၁၉၉.၃၉ | |
| (ဃ) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၂.၃၀ | (US$ ၀.၀၁၃ သန်း အပါအဝင်) |
| (င) ရုံးသုံးပစ္စည်းများ | ၄.၃၅ | |
| (စ) စက်ပစ္စည်းကိရိယာများ | ၁၀၅၇.၃၂ | (US$ ၀.၃၇၂ သန်း အပါအဝင်) |
| (ဆ) မော်တော်ယာဉ် | ၆၄.၈၀ | (US$ ၀.၀၅၄ သန်း အပါအဝင်) |
| စုစုပေါင်း | ၂၀၂၈.၁၆ | (US$ ၀.၅၃၉ သန်း အပါအဝင်) |

၈။ ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ

- ပြည်ပမှ တည်ဆောက်မှုကာလအတွင်း တင်သွင်းမည့် စက်ပစ္စည်း နှင့် လုပ်ငန်းသုံးပစ္စည်းများကို တင်ပြထား ပါသည်။

၉။ ဝန်ထမ်းအင်အား

- **စုစုပေါင်း ၃၃၀ ဦး**
- ပြည်တွင်း ၃၃၀ ဦး

(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။)

၁၀။ ရောင်းချမည့် နည်းစနစ်

- (ပြည်ပ) ၉၀% နှင့် (ပြည်တွင်း) ၁၀%

၁၁။ ကုမ္ပဏီ၏ ဝင်ငွေ(ဆဋ္ဌမနှစ်) - ကျပ် ၂၇၃၇.၉၀ သန်း

ကုမ္ပဏီ၏ အသုံးစရိတ် - ကျပ် ၂၃၈၉.၀၉ သန်း

ကုမ္ပဏီ၏ အသားတင်အမြတ် - ကျပ် ၃၄၈.၈၁ သန်း

၁၂။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက်

ဝင်ငွေခွန် - ကျပ် ၁၁၆.၂၇ သန်း

ကုန်သွယ်လုပ်ငန်းခွန် - ကျပ် ၁၀.၄၃ သန်း

၁၃။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၅၀၀ KVA

၁၄။ နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက်

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့် နည်းစနစ် | | ရောင်းချမည့် ဈေးနှုန်း | |
|---|---|---|---|---|---|---|
| | | | ပြည်ပ ၉၀% | ပြည်တွင်း ၁၀% | ပြည်ပ US$/ Ton | ပြည်တွင်း Kyat/Ton |
| (က) | Plywood | ၂၂၁၀ | ၁၉၈၉ | ၂၂၁ | ၃၂၀.၀၀ | ၃၆၀၀၀၀ |
| (ခ) | Hardwood Veneer | ၃၉၁၆ | ၃၅၂၄ | ၃၉၂ | ၄၁၀.၀၀ | ၄၁၀၀၀၀ |

၁၅။ ကုမ္ပဏီမှ CSR ဆောင်ရွက်မည့်အစီအစဉ်

- လုပ်ငန်းမှ လည်ပတ်ဆောင်ရွက်ရာမှ ရရှိမည့် အသားတင်အမြတ်ငွေ၏ ၂% အား လူမှုရေး ဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၆။ | မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အစီအစဉ် | - စက်ရုံဝင်းအတွင်း အရေးပေါ် သုံးစွဲနိုင်ရန် သင့်တင့်လျောက်ပတ်သော အကျယ်အဝန်းရှိသည့် ရေကန်များထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဗူးများအား ၁၀ပေ အကွာစီတွင် ထားရှိမည်ဖြစ်ကြောင်း၊ မီးချိတ်၊ မီးကပ်၊ သဲနှင့် ရေများလည်း ထားရှိမည် ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော အမှိုက်များကိုလည်း အမှိုက်ကန် တည်ဆောက်၍ စနစ် တကျသိမ်းဆည်းထား ရှိမည်ဖြစ်ကြောင်း၊ အမှိုက်သိမ်းဆည်းရေးအတွက် နယ်မြေခံ မီးသတ်ဦးစီးဌာနနှင့်ညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဌာနမှပို့ချသော သင်တန်းများ ကိုလည်းဝန်ထမ်းများအား အလှည့်ကျ စေလွှတ်၍ တက်ရောက် စေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | အခြားတင်ပြချက် | - ငွေကြေး အထောက်အထားအဖြစ် ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက် အမည်ဖြင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် (၈-၇-၂၀၁၅) ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၆၀,၈၇၈.၈၆ ရှိကြောင်းနှင့် ကမ္ဘောဇဘဏ် (ကမာရွတ်)တွင် (၂၃-၇-၂၀၁၅) ရက်နေ့အထိ ကျပ် ၆၉,၆၃၇,၁၂၀.၅၃ ရှိကြောင်း တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US $ = 1200 ကျပ်ဖြင့် တွက်ချက် တင်ပြထားပါသည်။ |
| ၁၈။ | စိစစ်တင်ပြချက် | - ပဲခူးတိုင်းဒေသကြီး၊ စက်ရုံ/အလုပ်ရုံ တည်ထောင်ရေး လုပ်ငန်းကြီးကြပ်မှု ကော်မတီမှ ဦးဝင်းဆွေအမည်ဖြင့် နှစ် ၃၀ လုပ်ငန်းဆောင်ရွက် ခွင့်ချထားပေးသည့် မြေအထောက်အထား တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ သစ်ကုန်ကြမ်းရရှိရေးနှင့် စပ်လျဉ်း၍ ဖြူးမြို့နယ်၊ မြရာပင်ကျော ကြိုးဝိုင်းရှိ ပုဂ္ဂလိက ကိုယ်ပိုင် သစ်တော စိုက်ခင်း (၅၀၅၀) ဧက၌ ကျွန်းစိုက်ခင်းအား ၂၀၁၀ ခုနှစ်မှစ၍ တည်ထောင်စိုက်ပျိုးထားကြောင်းနှင့် ထို့အပြင် ပုဂ္ဂလိက ကိုယ်ပိုင်သစ်တော စိုက်ခင်းများထပ်မံစိုက်ပျိုးနိုင်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောဝန်ကြီးဌာနသို့ အဆိုပြုလွှာများ လျှောက်ထားဆောင်ရွက်ရန် စီစဉ်လျက်ရှိပါကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် လုပ်ငန်းစီမံချက်တင်ပြထားပါသည်။ ပတ်ဝန်းကျင် ထိန်းသိမ်း ရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ IEE နှင့် EMP တို့ကို ရေးဆွဲတင်ပြသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ (၂၀) အရ ခံစားခွင့်ရှိသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားစာ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ မ-၂၂၃/ ၂၀၁၆ (၀၁၆ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) မှ သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

၁။ ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) မှ အထူးစက်မှုဇုန် မြေကွက်အမှတ် (၉+၁၀+၁၁)၊ ညောင်းအင်းကျေးရွာ၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်း ဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၁၅ ဧကတွင် သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းဆွေ (အဘ-ဦးကြင်ဝမ်) မှ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၃၀နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာစုစုပေါင်း ကျပ် ၂၀၂၈.၁၆ သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) | |
|---|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀ | |
| (ခ) | မြေ | ၆၀၀.၀၀ | |
| (ဂ) | အဆောက်အဦး | ၁၉၉.၃၉ | (US$ ၀.၁၁၃ သန်း အပါအဝင်) |
| (ဃ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၂.၃၀ | |
| (င) | ရုံးသုံးပစ္စည်းများ | ၄.၃၅ | |
| (စ) | စက်ပစ္စည်းကိရိယာများ | ၁၀၅၇.၃၂ | (US$ ၀.၃၇၂ သန်း အပါအဝင်) |
| (ဆ) | မော်တော်ယာဉ် | ၆၄.၈၀ | (US$ ၀.၀၅၄ သန်း အပါအဝင်) |
| | စုစုပေါင်း | ၂၀၂၈.၁၆ | (US$ ၀.၅၃၉ သန်း အပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၃၃၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောထုတ်ကုန်များကို ၉၀%ပြည်ပနှင့် ပြည်တွင်း၁၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့် နည်းစနစ် (တန်) | | ရောင်းချမည့် ဈေးနှုန်း | |
|---|---|---|---|---|---|---|
| | | | ပြည်ပ ၉၀% | ပြည်တွင်း ၁၀% | ပြည်ပ US$/ Ton | ပြည်တွင်း Kyat/Ton |
| (က) | Plywood | ၂၂၁၀ | ၁၉၈၉ | ၂၂၁ | ၃၂၀.၀၀ | ၃၆၀၀၀၀ |
| (ခ) | Hardwood Veneer | ၃၉၁၆ | ၃၅၂၄ | ၃၉၂ | ၄၁၀.၀၀ | ၄၁၀၀၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့်တွက်ချက်ထားပါသည်-

(က) ဝင်ငွေ - ကျပ် ၂၇၃၇.၉၀ သန်း

(ခ) အသုံး စရိတ် - ကျပ် ၂၃၈၉.၀၉ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၃၄၈.၈၁ သန်း

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၁၆.၂၇ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၁.၄၃ သန်းရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် နှင့် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ် နှုန်း (IRR) မှာ ၁၉.၂၀% ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း သဘောထား ပြန်ကြားလာပါ သည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိ မြို့ပြစီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ သစ်ကုန်ကြမ်းရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း၊ ရေရှည်ကုန်ကြမ်း ရရှိရေးအတွက် ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင် သစ်တော သယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် *CITES* (မျိုးဆက်ပျက်သုဉ်းလုဆဲ တောရိုင်း တိရစ္ဆာန်နှင့် သစ်ပင်ပန်းပင်များ နိုင်ငံတကာ ကုန်သွယ်မှုဆိုင်ရာ ကွန်ဗင်းရှင်း) မှ တားမြစ်ခြင်းမရှိသည့် သစ်မျိုးများတင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အား ဖြည့်ဆည်းနိုင်ပါ ကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ လျော့နည်းစေ ရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်စနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း တို့အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်းနှင့် စွန့်ပစ် အရည်စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည် ဖော်ဆောင်ရွက်ရန်လိုအပ်ကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ (**ကုမ္ပဏီမှ** IEE

နှင့် EMP ရေးဆွဲရေးနှင့် ပုဂ္ဂလိကသစ်စိုက်ခင်း တည်ထောင်ရေးအတွက် **ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာ အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေကြေးအထောက်အထားအဖြစ် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်အမည်ဖြင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်တွင် (၈-၇-၂၀၁၅) ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၆၀,၈၇၈.၈၆ နှင့် ကမ္ဘောဇဘဏ် (ကမာရွတ်) တွင် (၂၃-၇-၂၀၁၅) ရက်နေ့အထိ ကျပ် ၆၉,၆၃၇,၁၂၁.၅၃ ရှိကြောင်း တင်ပြ ထားပါသည်။

၁၀။ ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Company Limited) သည် ကုမ္ပဏီ မှတ်ပုံတင် အမှတ်-၈၆၅/၁၉၉၉-၂၀၀၀(၂၄-၉-၁၉၉၇)ဖြင့် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း တို့ကို တင်ပြထားပါသည်။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသား၂ ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး၊ မည်သည့် နိုင်ငံခြားသားမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ မီးဘေး ကြိုတင် ကာကွယ်မှုအတွက် စက်ရုံဝင်းအတွင်း အရေးပေါ်သုံးစွဲနိုင်ရန် သင့်တင့်လျောက်ပတ်သော အကျယ် အဝန်းရှိသည့် ရေကန်များထားရှိမည် ဖြစ်ကြောင်း၊ မီးသတ်ဗူးများအား ၁၀ပေ အကွာစီ တွင် ထားရှိမည်ဖြစ်ကြောင်း၊ မီးချိတ်၊ မီးကပ်၊ သဲနှင့် ရေများလည်း ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော အမှိုက်များကိုလည်း အမှိုက်ကန်တည်ဆောက်၍ စနစ်တကျ သိမ်းဆည်း ထားရှိမည်ဖြစ်ကြောင်း၊ အမှိုက်သိမ်းဆည်းရေး အတွက် နယ်မြေခံ စည်ပင်သာယာရေး ကော်မတီ နှင့်လည်းညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက်စေမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံဝန်ထမ်း အလုပ်သမားများအတွက် ဝန်ထမ်းသက်သာ ချောင်ချိရေးအတွက် စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ပါကြောင်း၊ လုပ်ငန်းကျွမ်းကျင်မှု သင်တန်း များအား အလျဉ်းသင့်သလို စီစဉ်၍ တက်ရောက် စေမည် ဖြစ်ပါကြောင်း၊ စက်ရုံတွင် ရေးဦး

သုနာပြုသင်တန်းများနှင့် နာမကျန်းသူများ နားနေခန်း ၁ ခန်း စီစဉ်ထားရှိမည်ဖြစ်ကြောင်း၊ ထိခိုက်ဒဏ်ရာရရှိပါက လူမှု ဖူလုံရေး ဆေးခန်းသို့ စေလွှတ်၍ ဆေးဝါးကုသမှု ခံယူစေမည် ဖြစ်ပါကြောင်း၊ ဝင်ငွေခွန်ပေးဆောင် ခြင်းနှင့် ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေ တစ်နှစ် လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက် ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့်နှုန်းများ အတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓာတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ဝင်းနှင့် ဝင်း ကုမ္ပဏီလီမိတက် (Win & Win Company Limited) မှ မြန်မာနိုင်ငံတော်ရှိ လူမှုအဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေ အဖြစ် ထားရှိသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ သစ်ကုန်ကြမ်းရရှိရေးနှင့် စပ်လျဉ်း၍ ဖြူးမြို့နယ်၊ မြရာပင်ကျော ကြိုးဝိုင်းရှိ ပုဂ္ဂလိက ကိုယ်ပိုင် သစ်တော စိုက်ခင်း (၅၀၅၀) ကေဒ္ဒ ကျွန်းစိုက်ခင်းအား ၂၀၁၀ ခုနှစ်မှစ၍ တည်ထောင် စိုက်ပျိုးထားကြောင်းနှင့် ပုဂ္ဂလိက ကိုယ်ပိုင်သစ်တော စိုက်ခင်းများ ထပ်မံ စိုက်ပျိုး နိုင်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောဝန်ကြီးဌာနသို့ အဆိုပြုလွှာများ လျှောက်ထား ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၅ ရက်နေ့ တွင် ကျင်းပ ပြုလုပ်သည့် ၃၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင် မည်ဖြစ်ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) ပဲခူးတိုင်းဒေသကြီး စက်ရုံ/အလုပ်ရုံ တည်ဆောက်ရေးလုပ်ငန်း ကြီးကြပ်မှု ကော်မတီမှ စက်ရုံ/အလုပ်ရုံ တည်ထောင်အသုံးပြုနိုင်ရန်အတွက် စက်မှုမြေအဖြစ် မြေနေရာချထားပေးခြင်း အထောက်အထား နှင့် မြေပုံတို့ကို တင်ပြထားပါသည်။

(ခ) ဦးဝင်းဆွေမှ ပဲခူးတိုင်းဒေသကြီး၊ စက်ရုံ/အလုပ်ရုံ တည်ထောင် ရေးလုပ်ငန်း ကြီးကြပ်မှုကော်မတီသို့ မြေငှားခအဖြစ် ပထမ အရစ်အတွက် ကျပ်သိန်း ၄၀၀၀ နှင့် ဒုတိယ အရစ်အတွက် ကျပ်သိန်း၂၀၀၀ ပေးသွင်းပြီးဖြစ်ကြောင်း အထောက် အထား အဖြစ် ငွေပေးသွင်းခြင်းဆိုင်ရာ စာချုပ်တို့ကို တင်ပြထားပါသည်။

(ဂ) ၄င်းရမ်းမြေ ၂၀ ဧကအနက် ၁၅ ဧကတွင် သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ဃ) ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၈၆၅/ ၁၉၉၉-၂၀၀၀ (၁၃-၉-၂၀၁၃) ရက်စွဲဖြင့် မှတ်ပုံတင်ထားရှိပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

ဝင်းနှင့်ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်းအင်းကျေးရွာ၊ အထူးစက်မှုဇုန် မြေကွက်အမှတ် (၉+၁၀+၁၁) ရှိ မြေအကျယ် ၁၅ ဧကတွင် သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းဆွေ (အဘ-ဦးကြင်ဝမ်)မှ အဆိုပြုချက် တင်ပြလာခြင်း အပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ